**အကြောင်းအရာ။** **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် JMOL Co., Ltd. တည်ထောင်ပြီးကမ်းလွန်ရေနံ အခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ (Offshore Supply Base and Logistics Hub) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | -JMOL Co., Ltd.<br>-မောင်မောင်မိုးကျော်စည်(အဖ-ဦးမောင်မောင်) |
| | အဖွဲ့အစည်း ပုံသဏ္ဌာန် | ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- J-DeEP: Japan Offshore Design and Engineering Platform (ဂျပန်နိုင်ငံ) ၇၀%<br>- AMOE Energy Co., Ltd. (မြန်မာနိုင်ငံ) ၃၀% |
| ၂။ | လုပ်ငန်းအမျိုးအစား | - ကမ်းလွန်ရေနံ အခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်း ဝန်ဆောင်မှုလုပ်ငန်းများ (Construction and Operation of Integrated Logistics and Offshore Supply Base) |
| ၃။ | တည်နေရာ | - ဧရာဝတီတိုင်းဒေသကြီး၊ မြောင်းမြခရိုင်၊ မြောင်းမြမြို့နယ်၊ မဲကျော်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၀(ခ)၊ နံ့ဂါတ်မြောက်ကွင်း၊ ဦးပိုင်အမှတ်- ၃/၅၊ ၃/၇၊ ၃/၈၊ ၆ ရှိ မြေ (၃.၈၁+၆.၆၉+၀.၇၂+၇.၁၀)ဧက |
| | စုစုပေါင်းမြေ အကျယ်အဝန်း | - ၁၈.၃၂ ဧက |
| | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၃၀ နှစ် |
| ၄။ | မြေပိုင်ရှင် | - ဦးမောင်မောင်မိုးကျော်စည် |
| | နှစ်စဉ်မြေငှားရမ်းခ | - US$ ၇၄,၁၄၁ (တစ်နှစ် တစ်စတုရန်းမီတာလျှင် ၁ US$ နှုန်း) |
| | မြေငှားရမ်းကာလ | - ၃၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၁၈ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၅၄,၀၀၀.၀၀ သန်း (US$ ၃၆.၇၆ သန်း အပါအဝင်) |

| ထည့်ဝင်သည့်အမျိုးအစား | **ပြည်တွင်း** | **ပြည်ပ** | | **စုစုပေါင်း** | |
|---|---|---|---|---|---|
| | ကျပ်(သန်း) | US$ (သန်း) | ညီမျှသော ကျပ်(သန်း) | US$ (သန်း) | ညီမျှသော ကျပ်(သန်း) |
| ငွေသား | | ၇.၅၆ | ၁၀,၂၀၆.၀၀ | ၇.၅၆ | ၁၀,၂၀၆.၀၀ |
| စက်ပစ္စည်း | ၁,၉၄၃.၀၀ | ၂၁.၉၅ | ၂၉,၆၃၂.၀၀ | ၂၃.၃၈ | ၃၁,၅၇၅.၀၀ |
| ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြားပစ္စည်းများ | | ၄.၂၅ | ၅,၇၃၈.၀၀ | ၄.၂၅ | ၅,၇၃၈.၀၀ |
| အခြား | ၂,၄၃၁.၀၀ | ၃.၀၀ | ၄,၀၅၀.၀၀ | ၄.၈၁ | ၆,၄၈၁.၀၀ |
| **စုစုပေါင်း** | **၄,၃၇၄.၀၀** | **၃၆.၇၆** | **၄၉,၆၂၆.၀၀** | **၄၀.၀၀** | **၅၄,၀၀၀.၀၀** |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား<br>(ပထမနှစ်) | - ၁၃၄ ဦး(အနိမ့်ဆုံးလစာ- US$ ၃၀၀<br>အမြင့်ဆုံးလစာ- US$ ၆,၀၀၀)<br>-ပြည်တွင်း ပြည်ပ လုပ်ခလစာနှုန်းထားအား ခွဲခြား ဖော်ပြထားခြင်းမရှိပါ။ |
| | ပြည်တွင်း<br>ပြည်ပ | ၁၂၁ ဦး<br>၁၃ ဦး |
| ၇။ | ဝန်ဆောင်မှုပေးမည့်နည်းစနစ် | - ပြည်တွင်းဝန်ဆောင်မှုပေးခြင်း (၁၀၀%) |
| ၈။ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၂ မဂ္ဂါဝပ် |
| | နှစ်စဉ်ရေလိုအပ်ချက် | - ၁,၂၀၀ မက်ထရစ်တန် |
| ၉။ | CSR | - အသားတင်အမြတ်၏ ၂ %ကို သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၀။ | နှစ်စဉ်ဝန်ဆောင်မှုနှင့်နှုန်းများ<br>(နှစ်စဉ် ပျမ်းမျှ) | - အဆိုပြုချက်တွင် ဇယားဖြင့်တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ မရက- ၅(စ)/ခ-၀၀၆/၂၀၁၇( ၃၅၈ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၃ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် JMOL Co., Ltd. မှ ကမ်းလွန်ရေနံ အခြေစိုက်စခန်းနှင့် ရေနက်ပိုင်း ထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ (Offshore Supply Base and Logistics Hub) အား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဂျပန်နိုင်ငံ J-DeEP: Japan Offshore Design and Engineering Platform (J-DeEP Technology & Engineering Research Association) မှ (၇၀%) နှင့် မြန်မာနိုင်ငံ AMOE Energy Co., Ltd. မှ (၃၀%) ထည့်ဝင်၍ JMOL Co., Ltd. တည်ထောင်ကာ ဧရာဝတီတိုင်းဒေသကြီး၊ မြောင်းမြခရိုင်၊ မြောင်းမြမြို့နယ်၊ မဲကျော်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၀(ခ)၊ နံ့ဂါတ်မြောက်ကွင်း၊ ဦးပိုင်အမှတ်-၃/၅၊ ၃/၇၊ ၃/၈၊ ၆ ရှိ မြေ(၃.၈၁+၆.၆၉+၀.၇၂+၇.၁၀)ဧက စုစုပေါင်း ၁၈.၃၂ ဧကတွင် ကမ်းလွန်ရေနံ အခြေစိုက်စခန်းနှင့်ရေနက်ပိုင်း ထောက်ပံ့ဖြည့်ဆည်း ဝန်ဆောင်မှုလုပ်ငန်းများ (Offshore Supply Base and Logistics Hub) အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာပါသည်။

၂။ AMOE Energy Co., Ltd. နှင့် J-DeEP: Japan Offshore Design and Engineering Platform (J-DeEP Technology & Engineering Research Association) တို့ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)၊ ဖက်စပ်ကုမ္ပဏီ တည်ထောင်မည့် JMOL Co., Ltd. ၏ အမည်စစ်အထောက်အထားနှင့် မြေပိုင်ရှင် ဦးမောင်မောင်မိုးကျော်စည် (ဖက်စပ်ကုမ္ပဏီဒါရိုက်တာ) နှင့် JMOL Co., Ltd. တို့ချုပ်ဆိုမည့် မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)များအား တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ သက်တမ်းကာလမှာ ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁၈ လဖြစ်ပါသည်။ မြေငှားသက်တမ်းမှာ ၃၀ နှစ် ဖြစ်ပြီး မြေဧရိယာ ၁၈.၃၂ ဧက (၇၄,၁၄၁ စတုရန်းမီတာ)တွင် လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။ နှစ်စဉ် မြေငှားရမ်းခမှာ US$ ၇၄,၁၄၁ (တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၁ နှုန်း) ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်း ပမာဏမှာ ကျပ် ၅၄,၀၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၃၆.၇၆ သန်းအပါအဝင်) ဖြစ်ပြီး ချေးငွေပမာဏမှာ စုစုပေါင်းမတည်ငွေရင်း၏ ၇၀ % ဖြစ်သော အမေရိကန်ဒေါ်လာ ၂၈ သန်းဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှုပုံစံမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ပြည်တွင်း (ကျပ်သန်း) | ပြည်ပ (US$ သန်း) | ပြည်ပ ညီမျှသော မြန်မာကျပ် (သန်း) | စုစုပေါင်း (US$ သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|
| ငွေပမာဏ | - | ၇.၅၆ | ၁၀,၂၀၆.၀၀ | ၇.၅၆ | ၁၀,၂၀၆.၀၀ |
| စက်ပစ္စည်း | ၁,၉၄၃.၀၀ | ၂၀.၉၅ | ၂၈,၆၃၂.၀၀ | ၂၃.၃၈ | ၃၀,၅၇၅.၀၀ |
| ကနဦးကုန်ကြမ်းများနှင့် အခြားပစ္စည်းများ | - | ၄.၂၅ | ၅,၇၃၈.၀၀ | ၄.၂၅ | ၅,၇၃၈.၀၀ |
| အခြား (ဆောက်လုပ်ရေး ပစ္စည်းများစသည်) | ၂,၄၃၁.၀၀ | ၃.၀၀ | ၄,၀၅၀.၀၀ | ၄.၈၁ | ၆,၄၈၁.၀၀ |
| **စုစုပေါင်း** | **၄,၃၇၄.၀၀** | **၃၆.၇၆** | **၄၈,၆၂၆.၀၀** | **၄၀.၀၀** | **၅၄,၀၀၀.၀၀** |

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၂၁ ဦး နှင့် ပြည်ပဝန်ထမ်း ၁၃ ဦး စုစုပေါင်း ၁၃၄ ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ ပျမ်းမျှအနိမ့်ဆုံးလစာမှာ US$ ၃၀၀ ဖြစ်ပြီး ပျမ်းမျှအမြင့်ဆုံးလစာမှာ US$ ၆,၀၀၀ ဖြစ်ပါသည်။ (ပြည်တွင်း/ပြည်ပ လုပ်ခလစာ ခွဲခြား ဖော်ပြထားခြင်းမရှိပါ။)

၆။ ဂျပန်နိုင်ငံ၊ Ministry of Land, Infrastructure, Transport and Tourism အသိအမှတ် ပြုနည်းပညာနှင့် အင်ဂျင်နီယာဆိုင်ရာ သုတေသန အဖွဲ့အစည်းကြီးတစ်ခုဖြစ်ပြီး ကမ်းလွန်ရေနံလုပ် ငန်းဆိုင်ရာ နည်းပညာ တိုးတက်ရန် ရည်ရွယ်၍ ပူးပေါင်းဆောင်ရွက်ရန် ဖွဲ့စည်းတည်ထောင်ထား ကြောင်း တင်ပြထားပါသည်။ J-DeEP (J-DeEP Technology & Engineering Research Association) ၏ Offshore Logistics Hub System တည်ဆောက်မည့်ဒီဇိုင်းများ၊ Supply Terminal နှင့် Material Hub ဒီဇိုင်းများ၊ AMOE Companies ၏ လက်အောက်ခံ ကုမ္ပဏီများ နှင့် အဆိုပါ ဂျပန်နိုင်ငံ ထိပ်တန်းကုမ္ပဏီများ၏ Companies Structure နှင့် Offshore and Marine၊ Energy၊ Logistics နှင့် Sand ကဏ္ဍ(၄)ခုတွင် လုပ်ကိုင်လျက်ရှိသည့် လုပ်ငန်းအတွေ့ အကြုံများအား တင်ပြထားပါသည်။

၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့်ကို ၂၀၁၇ ခုနှစ် မေလ ၂၂ ရက် နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၄/၂၀၁၇) အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါ သည်။

**စိစစ်တင်ပြချက်**

၈။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

| ထည့်ဝင်သည့် အမျိုးအစား | ပြည်တွင်း (ကျပ်သန်း) | ပြည်ပ (US$ သန်း) | ပြည်ပ ညီမျှသော မြန်မာကျပ် (သန်း) | စုစုပေါင်း (US$ သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|
| ငွေပမာဏ | - | ၇.၅၆ | ၁၀,၂၀၆.၀၀ | ၇.၅၆ | ၁၀,၂၀၆.၀၀ |
| စက်ပစ္စည်း | ၁,၉၄၃.၀၀ | ၂၀.၉၅ | ၂၈,၆၃၂.၀၀ | ၂၀.၉၅ | ၂၈,၆၃၂.၀၀ |
| ကနဦးကုန်ကြမ်းများနှင့် အခြားပစ္စည်းများ | - | ၄.၂၅ | ၅,၇၃၈.၀၀ | ၄.၂၅ | ၅,၇၃၈.၀၀ |
| မြေငှားရမ်းခ | ၂,၄၃၁.၀၀ | - | - | ၃.၂၄ | ၄,၃၇၄.၀၀ |
| အခြား (ဆောက်လုပ်ရေး ပစ္စည်းများစသည်) | - | ၃.၀၀ | ၄,၀၅၀.၀၀ | ၃.၀၀ | ၄,၀၅၀.၀၀ |
| စုစုပေါင်း | **၄,၃၇၄.၀၀** | **၃၆.၇၆** | **၄၉,၆၂၆.၀၀** | **၄၀.၀၀** | **၅၄,၀၀၀.၀၀** |

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၂၀ ဦး နှင့် ပြည်ပဝန်ထမ်း ၁၃ ဦး စုစုပေါင်း ၁၃၄ ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ ပျမ်းမျှအနိမ့်ဆုံးလစာမှာ US$ ၃၀၀ ဖြစ်ပြီး ပျမ်းမျှအမြင့်ဆုံးလစာမှာ US$ ၆,၀၀၀ ဖြစ်ပါသည်။ (ပြည်တွင်း/ပြည်ပ လုပ်ခလစာ ခွဲခြားဖော်ပြထားခြင်းမရှိပါ ။)

၆။ ဂျပန်နိုင်ငံ၊ Ministry of Land, Infrastructure, Transport and Tourism အသိအမှတ်ပြုနည်းပညာနှင့် အင်ဂျင်နီယာဆိုင်ရာ သုတေသန အဖွဲ့အစည်းကြီးတစ်ခုဖြစ်ပြီး ကမ်းလွန်ရေနံလုပ်ငန်းဆိုင်ရာ နည်းပညာ တိုးတက်ရန် ရည်ရွယ်၍ ပူးပေါင်းဆောင်ရွက်ရန် ဖွဲ့စည်းတည်ထောင်ထားကြောင်း တင်ပြထားပါသည်။ J-DeEP (J-DeEP Technology & Engineering Research Association) ၏ Offshore Logistics Hub System တည်ဆောက်မည့်ဒီဇိုင်းများ၊ Supply Terminal နှင့် Material Hub ဒီဇိုင်းများ၊ AMOE Companies ၏ လက်အောက်ခံ ကုမ္ပဏီများနှင့် အဆိုပါ ဂျပန်နိုင်ငံ ထိပ်တန်းကုမ္ပဏီများ၏ Companies Structure နှင့် Offshore and Marine၊ Energy၊ Logistics နှင့် Sand ကဏ္ဍ(၄)ခုတွင် လုပ်ကိုင်လျက်ရှိသည့် လုပ်ငန်း အတွေ့အကြုံများအား တင်ပြထားပါသည်။

၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့်ကို ၂၀၁၇ ခုနှစ် မေလ ၂၂ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၄/၂၀၁၇) အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၈။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြင့်တင်မည့်ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးမှု အသင့်အတင့်ရှိသောဒေသ ဇုန် (၂)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနနှင့် ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့တို့သို့ သဘောထားမှတ်ချက်တောင်းခံထားပြီး အဆိုပါသဘောထားမှတ်ချက်များအား နောက်ဆက်တွဲ(က)၊ (ခ)၊ (ဂ)၊ (ဃ) တို့ဖြင့် ပူးတွဲတင်ပြထားပါသည်။

(ဃ) Offshore Supply Base Services လုပ်ငန်းဆောင်ရွက်ခွင့်အား ဧရာဝတီတိုင်းဒေသကြီးတွင် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် မြင့်အင်(န်) အဆို စီရိတ်(စ်) ကမ်းလွန်ဝန်ဆောင်မှု လုပ်ငန်းလီမိတက်နှင့် အက်(စ်) အိုင် အမ် ကုမ္ပဏီလီမိတက်တို့အားလည်းကောင်း၊ မွန်ပြည်နယ်တွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MOSB Limited အားလည်းကောင်း၊ ရခိုင်ပြည်နယ်တွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Chemical & Machinery Co., Ltd. အားလည်းကောင်း အသီးသီးခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် JMOL Co., Ltd. တည်ထောင်ကာ ဧရာဝတီတိုင်းဒေသကြီး၊ မြောင်းမြခရိုင်၊ မြောင်းမြမြို့နယ်၊ မဲကျော်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၈(ခ)၊ နံ့ဂါတ်မြောက်ကွင်း၊ ဦးပိုင်အမှတ်- ၃/၅၊ ၃/၇၊ ၃/၈၊ ဖ ရှိ မြေ (၃.၈၁+၆.၆၉+၀.၇၂+၇.၁၀) ဧက စုစုပေါင်း ၁၈.၃၂ ဧကတွင် ကမ်းလွန်ရေနံအခြေစိုက်စခန်းနှင့်ရေနက်ပိုင်း ထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ(Offshore Supply Base and Logistics Hub) အား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ( )
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ (က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ပဆ-(၃)/(တံတား-MPA)/၂၀၁၇ ( ၁၉၂ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀.၁၀.၂၀၁၇ ရက်စွဲပါ စာအမှတ် မရက-၅(စ)/ခ-၁၀၆/၂၀၁၇(၄၈၇)

၁။ JMOL Co., Ltd. က ဧရာဝတီတိုင်းဒေသကြီး၊ မြောင်းမြခရိုင်၊ မြောင်းမြမြို့နယ်၊ မဲကျော် ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၀(ခ)၊ နံ့ဂါတ်မြောက်ကွင်း၊ ဦးပိုင်အမှတ်- ၃/၅၊ ၃/၇၊ ၃/၈၊ ၆ ရှိ မြေ (၃.၈၁+၆.၆၉+၀.၇၂+၇.၁၀) ဧက စုစုပေါင်း ၁၈.၃၂ ဧကတွင် ကမ်းလွန်ရေနံ အခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ (Offshore Supply Base and Logistic Hub Project) အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာပါသဖြင့် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် ဆောင်ရွက်မည့်လုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် ရှိ-မရှိ သဘောထားမှတ်ချက်ကို ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာသည့် ကိစ္စဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ JMOL Co., Ltd. မှ ကမ်းလွန်ရေနံအခြေစိုက်စခန်းနှင့် ရေနက်ပိုင်း ထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ (Offshore Supply Base and Logistics Hub Project) ဆောင်ရွက်ခွင့်ပြုရန် တင်ပြထားသော ဧရာဝတီတိုင်းဒေသကြီး၊ မြောင်းမြခရိုင်၊ မြောင်းမြ မြို့နယ်၊ မဲကျော်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၀(ခ)၊ နံ့ဂါတ်မြောက်ကွင်း၊ ဦးပိုင်အမှတ်- ၃/၅၊ ၃/၇၊ ၃/၈၊ ၆ ရှိ မြေ (၃.၈၁+၆.၆၉+၀.၇၂+၇.၁၀) ဧက စုစုပေါင်း ၁၈.၃၂ ဧက သည် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၊ ပုသိမ်ဆိပ်ကမ်း၏ ဆိပ်ကမ်းနယ်နိမိတ် အတွင်း ပုသိမ်မြစ် (ငဝန်မြစ်) ကမ်းနဖူးတွင် တည်ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ထို့ပြင် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် Myint & Associates Offshore Supply Base Ltd. နှင့် SIM Co., Ltd. တို့မှ ဧရာဝတီတိုင်းဒေသကြီး၊ ငပုတောမြို့နယ်၊ ငရုတ်ကောင်းမြို့နယ်ခွဲ၊ နံ့သာပုကျေးရွာအုပ်စုတွင်လည်းကောင်း၊ Myanmar Chemical & Machinery Co., Ltd. မှ ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စုတွင်

လည်းကောင်း ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်းများ (Offshore Supply Base) တည်ဆောက်ရန် အဆိုပြုထားခြင်းများအပေါ် သဘောထားမှတ်ချက်များ ပြန်ကြားခဲ့ပြီးဖြစ်ပါသည်။ မြန်မာ့ကမ်းလွန်ပင်လယ်တွင် ရေနံနှင့်သဘာဝဓာတ်ငွေ့ ရှာဖွေ၊ တူးဖော်၊ ထုတ်လုပ်ရေးလုပ်ငန်း (Offshore Supply Base Service) ပမာဏ ခန့်သတ်ချက်နှင့် ဈေးကွက် လိုအပ်ချက်တို့အတွက်လည်း လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ရယူဆောင်ရွက် သင့်ပါကြောင်း တင်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ JMOL Co., Ltd. မှ ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကမ်းလွန်ရေနံ အခြေစိုက် စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်း ဝန်ဆောင်မှုလုပ်ငန်းများ (Offshore Supply Base and Logistics Hub Project) ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာခြင်းအပေါ် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် ကုမ္ပဏီအနေဖြင့် အောက်ဖော်ပြပါ အချက် အလက်များကို လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား အပ်ပါသည်-

(က) မြေပိုင်ဆိုင်မှု အထောက်အထားတင်ပြရန်၊

(ခ) JMOL Co., Ltd.က တည်ဆောက်မည့် International Port အတွက် တံတားဒီဇိုင်း ပုံစံများကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ အတည်ပြုချက်ရယူရန်၊

(ဂ) လစဉ်မြေငှားရမ်းခများအား ကောက်ခံနိုင်ရေးအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် မြေငှားစာချုပ် ချုပ်ဆိုဆောင်ရွက်ရန်၊

(ဃ) ဆိပ်ခံတံတား တည်ဆောက်ပြီးပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ဆိပ်ကမ်းလုပ်ငန်း လိုင်စင်လျှောက်ထားရန်၊

(င) မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ဥပဒေကို လိုက်နာရန်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို-

- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- JMOL Co., Ltd.
- ရုံးလက်ခံ/ မျှောစာတွဲ





နောက်ဆက်တွဲ (၁)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

1-0(51)
15.1.18

စာအမှတ်၊MOEE-၂/(၁၅)/(သဘောထား-၂)/(၉၄၆)/၂၀၁၈
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၁၁ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ န-ထွေ/ ၂၀၁၇(၅၇၇)

၁။ ကမ်းလွန်ရေနံအခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ (Offshore Supply Base)ဆောင်ရွက်ရန် လျှောက်ထားလာမှုများနှင့်ပတ်သက်၍ မြန်မာနိုင်ငံအနေဖြင့် အရေအတွက်မည်မျှအထိသာ ခွင့်ပြုသင့်သည်ကိုလည်းကောင်း၊ ခွင့်ပြုသင့်သည့်အရေအတွက်ကို မည်သို့ရှိန်ဆတွက်ချက်သည်ကိုလည်းကောင်း ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် JMOL Co.,Ltd တည်ထောင်ပြီး၊ ဧရာဝတီတိုင်းဒေသကြီးတွင် ကမ်းလွန်အခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန် တင်ပြလာခြင်းအပေါ် ကမ်းလွန်ထောက်ပံ့ရေးအခြေစိုက်စခန်းလုပ်ငန်းဆိုင်ရာ စည်းမျဉ်းသတ်မှတ်ချက်များ၊ ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ သတ်မှတ်ချက်များ၊ အခြေခံအဆောက်အအုံများ၊ ဝန်ဆောင်မှုများ၊ ခွင့်ပြုချက်လိုင်စင်ရယူခြင်းဆိုင်ရာများ၊ ဈေးကွက်အခြေအနေအရ ကမ်းလွန်ထောက်ပံ့ရေးအခြေစိုက်စခန်းအရေအတွက်မှာ လိုအပ်သည်ထက် ပိုမိုများပြားလာမည်ဆိုပါက စီးပွားရေးနှင့် လုံခြုံရေးရှုထောင့်အရ သင့်လျော်မှုမရှိကြောင်း သုံးသပ်ချက်များနှင့်အတူ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အကြောင်းပြန်ကြားခဲ့ပြီးဖြစ်ပါသည်။

၃။ ကမ်းလွန်ရေနံအခြေစိုက်စခန်း၊ ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းတို့နှင့်စပ်လျဉ်းသည့် အစည်းအဝေးတစ်ရပ်အား ၅-၁-၂၀၁၈ ရက်နေ့တွင် ရေနံနှင့်သဘာဝဓာတ်ငွေ့စီမံရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးဆောင်၍ကျင်းပခဲ့ပြီး၊ အစည်းအဝေးသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ကိုယ်စားလှယ်အဖြစ် ညွှန်ကြားရေးမှူး ဦးလင်းထွဋ် တက်ရောက်ခဲ့ပါသည်။ အဆိုပါအစည်းအဝေးတွင် ဤဝန်ကြီးဌာန တာဝန်ရှိသူများမှ Offshore Supply Base (OSB) ၏ လုပ်ငန်းသဘောသဘာဝ၊ OSB ၏ စံသတ်မှတ်ချက်များ၊ နည်းပညာနှင့်ဘဏ္ဍာရေးပိုင်းဆိုင်ရာ

အသေးစိတ်စစ်ဆေးသင့်သည့် အချက်အလက်များ၊ မြန်မာနိုင်ငံ၏ဈေးကွက် အခြေအနေအရ OSB ၂ ခုသာ တည်ဆောက်သင့်ကြောင်း၊ ဤဝန်ကြီးဌာနလက်အောက်ရှိ မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်းအနေဖြင့် ယခင်က OSB တည်ဆောက်ရေးလုပ်ငန်းအား JV စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရန် အစီအစဉ်ရှိခဲ့သော်လည်း လက်ရှိအခြေအနေအရ Regulatory Body အနေဖြင့်သာ ဆောင်ရွက်ရန်စီစဉ်နေကြောင်း ရှင်းလင်းတင်ပြခဲ့ပါသည်။

၄။ ရှင်းလင်းတင်ပြချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ကိုယ်စားလှယ်မှ ကော်မရှင်၏သဘောထားမှာ OSB တည်ဆောက်ရေးအတွက် ယှဉ်ပြိုင်ဆောင်ရွက်စေခြင်းသာ ဖြစ်ကြောင်း၊ OSB ဆိုင်ရာ စံသတ်မှတ်ချက်များနှင့် လိုအပ်သည့်အရေးအတွက်နှင့်ပတ်သက်သည့် အသေးစိတ်ရှင်းလင်းတင်ပြချက်များကို တာဝန်ရှိသူများထံ အဆင့်ဆင့်ဆက်လက်တင်ပြသွားမည် ဖြစ်ကြောင်း ပြန်လည်ဆွေးနွေးခဲ့ပါသည်။ တွေ့ဆုံရှင်းလင်းတင်ပြသည့် အစည်းအဝေးမှတ်တမ်းနှင့် OSB စံသတ်မှတ်များ၏ Presentation ကို ပူးတွဲတင်ပြအပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် JMOL Co., Ltd တည်ထောင်ပြီး၊ ရောဝတီတိုင်းဒေသကြီးတွင် ကမ်းလွန်အခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်း ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန်တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လုပ်ပိုင်ခွင့်ပေးမည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း၊ သတ်မှတ်စည်းမျဉ်းစည်းကမ်းချက်များနှင့်အညီ ခွင့်ပြုချက်လိုင်စင်ရယူဆောင်ရွက်သွားရမည်ဖြစ်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( ကိုယ်စား )
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ရေနံနှင့်သဘာဝဓာတ်ငွေ့စီမံရေးဦးစီးဌာန
မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်း
ရုံးလက်ခံ/ မျှော့စာတွဲ



ပူးတွဲ (ဂ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC (OSS) /၀၁ (၁၈၄/၂၀၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် အောက်တိုဘာလ ၂၇ ရက်

M4-1027 သို့
27.10.17

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **JMOL Co., Ltd. မှ ကမ်းလွန်ရေနံအခြေစိုက်စခန်းနှင့်ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၁၀-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ ခ-၀၀၆/ ၂၀၁၇(၄၇၈)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဂျပန်နိုင်ငံ J-DeEP: Japan Offshore Design and Engineering Platform Co., Ltd. (J-DeEP Technology & Engineerinng Research Association) မှ ၇၀% နှင့် မြန်မာနိုင်ငံ AMOE Energy Co., Ltd. မှ ၃၀% ထည့်ဝင်၍ JMOL Co., Ltd. တည်ထောင်ပြီးရေ၀တီတိုင်းဒေသကြီး၊ မြောင်းမြခရိုင်၊ မြောင်းမြမြို့နယ်၊ မဲကျော်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၀(ခ)၊ နံဂါတ်မြောက်ကွင်း၊ ဦးပိုင်အမှတ်- ၃/၅၊ ၃/၇၊ ၃/၈၊ ၆ ရှိ မြေ ၃.၈၁ ဧက+ ၆.၆၉ ဧက+ ၀.၇၂ဧက+ ၇.၁၀ ဧက စုစုပေါင်း ၁၈.၃၂ ဧက (၇၄,၁၃၈.၄၀ စတုရန်းမီတာ)တွင် ကမ်းလွန်ရေနံအခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ (Offshore Supply Base and Logistics Hub Project) ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁၈) လဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းကို ၇၄,၁၃၈.၄၀ စတုရန်းမီတာစတုရန်းမီတာရှိမြေပေါ်တွင် Floating Supply Facility, Onshore Supply Facility, Solar Power Station, Treatment Plant, Expending Floating Supply Facility, Expanding Onshore Supply Facility, Oil Storage Yard, Solar Power Station, Ship Yard, Offshore Floating Hub နှင့် Heli pad/Heli portစသည့် အဆောက်အဦများ တည်ဆောက်ကာ လုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုစီမံကိန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် Enviro-Klean Techno-Associates Co., Ltd. (EKTA) အဖွဲ့နှင့်ဆောင်ရွက်သွားမည်ဖြစ်ပြီး ESIA ရေးဆွဲရန်အတွက် အဆိုပြုရေးဆွဲပြီးဖြစ်သော TOR ဖော်ပြပါရှိကာ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) JMOL Co., Ltd. မှ ကမ်းလွန်ရေနံအခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းခြင်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရာတွင် ဆိပ်ကမ်းနှင့်ကုန်လှောင်ရုံများ တည်ဆောက်ခြင်း လုပ်ငန်းများကြောင့်ထွက်ရှိလာမည့် မြေသားအမှုန့်အမွှားနှင့် ဖုန်မှုန့်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်၊ ယန္တရားများမှ ထွက်ရှိလာမည့် အခိုးအငွေ့များ၊ စွန့်ပစ်စက်သုံးဆီ၊ ချောဆီများ၊ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဂ) ဆိပ်ကမ်းလုပ်ငန်းများ ဆောင်ရွက်ချိန်တွင် ဆိုက်ကပ်လာမည့် သင်္ဘောများမှ ထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များ၊ မိလ္လာအညစ်အကြေးများ၊ ဖိတ်စင်စက်သုံးဆီများ၊ သိုလှောင်ရုံနှင့် ရေနံလှောင်ကန်များမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်၊ အစိုင်အခဲများကြောင့် ပတ်ဝန်းကျင် ရေထု၊ လေထု၊ မြေထု ညစ်ညမ်းခြင်းနှင့် ဆိပ်ကမ်းတည်ဆောက်ခြင်းကြောင့် ရေနေသတ္တဝါတို့၏ ဂေဟစနစ်ကို ထိခိုက်ပျက်စီးစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ JMOL Co., Ltd. မှ ကမ်းလွန်ရေနံအခြေစိုက်စခန်းနှင့်ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းခြင်း ဝန်ဆောင်မှုလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် အသားတင်အမြတ်ငွေ၏(၂)ရာခိုင်နှုန်းကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု(Corporate Social

Responsibility-CSR) အတွက် အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသောနယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ် အခြေခံ၍ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဓ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင်နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ဧရာဝတီတိုင်းဒေသကြီး
ရုံးလက်ခံ

FROM :

FAX NO. :

နောက်ဆက်တွဲ (ဃ)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၄၀၀/ ၄ - ၈(၁)/ အစိုးရ (ဧရာဝတီ)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ ၂၈ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄.၁၁.၂၀၁၇) ရက်စွဲပါစာအမှတ်၊ မရက-၅ (စ)/ ခ-၀၀၆ / ၂၀၁၇ (၄၈၀)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဂျပန်နိုင်ငံ J-DeEP: Japan Offshore Design and Engineering Platform Co.,Ltd. (J-DeEP Technology & Engineering Research Association) မှ (၇၀%)နှင့် မြန်မာနိုင်ငံ AMOE Energy Co.,Ltd မှ (၃၀%) ထည့်ဝင်၍ JMOL Co.,Ltd. တည်ထောင်ပြီး ဧရာဝတီတိုင်းဒေသကြီး၊ မြောင်းမြခရိုင်၊ မြောင်းမြမြို့နယ်၊ မဲကျော်ကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၅၀၀(ခ)၊ နံဂါတ်မြောက်ကွင်း၊ ဦးပိုင်အမှတ် - ၃/၅၊ ၃/၇၊ ၃/၈၊ ၆ ရှိမြေ (၃.၈၁ + ၆.၆၉ + ၀.၇၂ + ၇.၁၀)ဧက စုစုပေါင်း ၁၈.၃၂ ဧကတွင် ကမ်းလွန်ရေနံအခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ (Offshore Supply Base and Logistics Hub Project)အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် သဘောထားတောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအား လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ရန် သဘောထားပေးပို့တင်ပြအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ။

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ဧရာဝတီတိုင်းဒေသကြီး၊ မြောင်းမြခရိုင်၊ မြောင်းမြမြို့နယ်၊ မဲကျော်ကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၅၀၀(ခ)၊ နံဂါတ်မြောက်ကွင်း၊ ဦးပိုင်အမှတ် - ၃/၅၊ ၃/၇၊ ၃/၈၊ ၆ ရှိမြေ (၃.၈၁ + ၆.၆၉ + ၀.၇၂ + ၇.၁၀)ဧက စုစုပေါင်း ၁၈.၃၂ ဧကသည် နောင်ပြုလုပ်မည့် (သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ခ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်။

JMOL Co.,Ltd ၏ ယခုအဆိုပြုတင်ပြလာသည့် ကမ်းလွန်ရေနံအခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ (Offshore

Supply Base and Logistics Hub Project) ပြုလုပ်သည့်အတွက် ဒေသခံပြည်သူများအလုပ်အကိုင်၊ အခွင့်အလမ်းများနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ဂ) **ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။**

အဆိုပြုလျှောက်ထားလာသည့် JMOL Co.,Ltd ၏ ကမ်းလွန်ရေနံအခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ (Offshore Supply Base and Logistics Hub Project) လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်းမရှိပါကြောင်း ထောက်ခံအပ်ပါသည်။

(ဃ) **လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ ဟုတ်/မဟုတ်။**

အဆိုပြုတင်ပြထားသည့် မြေနေရာသည် JMOL Co.,Ltd ၏ ကမ်းလွန်ရေနံအခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှု လုပ်ငန်းများ (Offshore Supply Base and Logistics Hub Project) လုပ်ငန်းဆောင်ရွက်ရန်အတွက် သင့်တော်သည့်မြေနေရာဖြစ်ပါကြောင်း ထောက်ခံအပ်ပါသည်။

(င) **ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်**

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ပြောင်းလဲလာသည့်ခေတ်စနစ်၊ ဥပဒေများနှင့်အညီ တိုင်းဒေသကြီးအတွင်းရှိ ဒေသခံပြည်သူအလုပ်အကိုင် အခွင့်အလမ်းများရရှိရေး၊ စီးပွားရေးဖွံ့ဖြိုးတိုးတက်စေရေးတို့ကို ဦးစားပေးဆောင်ရွက်လျက်ရှိပါသဖြင့် ယခုအဆိုပြုလာသည့် JMOL Co.,Ltd ၏ ကမ်းလွန်ရေနံအခြေစိုက်စခန်းနှင့် ရေနက်ပိုင်းထောက်ပံ့ဖြည့်ဆည်းဝန်ဆောင်မှုလုပ်ငန်းများ (Offshore Supply Base and Logistics Hub Project)သည် ဧရာဝတီတိုင်းဒေသကြီးအတွင်း အကျိုးရှိစေမည့်လုပ်ငန်းဖြစ်ပါသဖြင့် အဆိုပါလုပ်ငန်းများအား ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ထောက်ခံပါကြောင်း အကြံပြုအပ်ပါသည်။

၂၈/၁၁/၁၇

ဝန်ကြီးချုပ်( ကိုယ်စား)

(ငွေးဝင်း၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး)

မိတ္တူကို

ညွှန်ကြားရေးမှူး၊ ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု
ဦးစီးဌာန၊ ပုသိမ်မြို့
JMOL Co.,Ltd
လုံ့လည်စာတွဲ/ရုံးလက်ခံ